အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myat Thit Oo Co.,Ltd. (မြတ်သစ်ဦးကုမ္ပဏီ လီမိတက်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆင့်မြင့်ပညာရေး ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br><br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - Myat Thit Oo Co.,Ltd.<br>(မြတ်သစ်ဦးကုမ္ပဏီ လီမိတက်)<br>-ဒေါ်သင်းသင်းသွယ်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - Building (B)၊ အမှတ် (၇၂)၊ ချင်းတွင်းလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေနှင့်အဆောက်အဦပိုင်ရှင်<br>မြေနှင့်အဆောက်အဦ<br>အကျယ်အဝန်း<br>မြေ/အဆောက်အဦငှားရမ်းခ<br>မြေ/အဆောက်အဦငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဒေါ်ခင်စန္ဒာနိုင်၊ ဒေါ်အေးစန္ဒာမြိုင်<br>- ၀.၄၅၇ ဧက (၁,၈၄၉.၄၁၅ စတုရန်းမီတာ) ပေါ်ရှိ ၉,၁၃၃ စတုရန်းပေ ကျယ်ဝန်းသည့် နှစ်ထပ်အဆောက်အဦ (B)<br>- ကျပ် ၇၂ သန်း(တစ်နှစ်)<br>- ၁၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား**<br>ငွေသား<br>အဆောက်အဦငှားရမ်းခ<br>ပရိဘောဂနှင့်လုပ်ငန်းသုံး<br>ပစ္စည်း<br>**စုစုပေါင်း** | - ကျပ် ၅၀၀.၀၀ သန်း<br>ကျပ် (သန်း)<br>၃၈၈.၀၀<br>၇၂.၀၀<br>၄၀.၀၀<br><br>၅၀၀.၀၀ |

၇။ နှစ်စဉ်ဝန်ဆောင်မှု

| စဉ် | အမျိုးအမည် | ကာလ (လ) | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | College Preparatory Program | ၃ | ၈ | ၃,၀၀၀,၀၀၀ |
| (ခ) | BCA Preparatory Program | ၆ | ၅ | ၁,၂၀၀,၀၀၀ |
| (ဂ) | Foundation Diploma in Management Studies | ၆ | ၇ | ၄,၀၀၀,၀၀၀ |
| (ဃ) | Engineering Pre Diploma Foundation Programme BCA Academy | ၆ | ၇ | ၄,၀၀၀,၀၀၀ |
| (င) | Diploma in Marketing Management (RVI) | ၆ | ၅ | ၁,၂၀၀,၀၀၀ |
| (စ) | Diploma in HR Management(RVI) | ၆ | ၁၀ | ၁,၂၀၀,၀၀၀ |

၈။ ဝန်ထမ်းခန့်ထားမှု

သင်ကြားရေး

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| ဦးရေ | ၅ ဦး | ၂ ဦး |
| အမြင့်ဆုံးလစာ | ကျပ် ၁,၀၀၀,၀၀၀ | US$ ၁,၆၀၀ |
| အနိမ့်ဆုံးလစာ | ကျပ် ၆၀၀,၀၀၀ | US$ ၇၅၀ |

စီမံခန့်ခွဲရေး

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| ဦးရေ | ၇ ဦး | ၁ |
| အမြင့်ဆုံးလစာ | ကျပ် ၂,၄၀၀,၀၀၀ | US$ ၃,၀၀၀ |
| အနိမ့်ဆုံးလစာ | ကျပ် ၁၆၅,၀၀၀ | |

၉။ အခြားတင်ပြချက်

- ငွေကြေးအထောက်အထားအဖြစ် KBZ Bank တွင် Myat Thit Oo Co.,Ltd. အမည်ဖြင့် ၁-၁၂-၂၀၁၈ ရက်စွဲတွင် ၆၁,၅၄၁,၃၀၈.၅၀ ရှိကြောင်း တင်ပြထားပါသည်။
- RV Centre International Pte Ltd. နှင့် Singapore Institute of Management Pte. Ltd. တို့ ချုပ်ဆိုထားသည့်

| | | |
|---|---|---|
| | | Memorandum of Agreement တင်ပြထားပါသည်။<br>- Myat Thit Oo Co.,Ltd. နှင့် RV Center International Pte. Ltd. (Singapore) နှင့် ချုပ်ဆိုထားသည့် Collaboration Agreement အား တင်ပြထားပါသည်။<br>- ပေးအပ်သည့် သင်တန်းဆင်းလက်မှတ် နမူနာများအား တင်ပြထား ပါသည်။<br>- အမျိုးသားပညာရေးဥပဒေ (၂၀၁၄)၊ အမျိုးသားပညာရေးဥပဒေ ပြင်ဆင်ချက်(၂၀၁၅) နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေး ဥပဒေများနှင့် National Assessment Policy တို့အား လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်တို့အား တင်ပြထား ပါသည်။<br>- သင်ကြားမည့် ဆရာ/မ များ၏ ပညာအရည်အချင်း အထောက် အထားများအား တင်ပြထားပါသည်။<br>- ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ Layout Plan၊ အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်းမရှိစေရေး ကတိဝန်ခံ ချက်၊ ဆရာ/မ နှင့် ကျောင်းသား/ သူများကာယိန္ဒြေ ထိခိုက်မှု မရှိစေရေးဝန်ခံချက်၊ မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ်၊လူမှုရေးဆိုင်ရာ တာဝန် ယူဆောင်ရွက်မှု အစီအစဉ်၊ ဝန်ထမ်းများ၏ လစာဝင်ငွေပေါ်တွင် ဝင်ငွေခွန် ပေးဆောင်ခြင်းနှင့် စပ်လျဉ်း၍ ဝန်ခံကတိပြုခြင်းကိစ္စ၊ ကျောင်းဆရာ/မ လုံလောက်ကြောင်းအထောက်အထား များအား တင်ပြထားပါသည်။<br>- အဆောက်အဦပိုင်ရှင် ဒေါ်ခင်စန္ဒာနိုင်၊ ဒေါ်အေးစန္ဒာမြိုင် တို့နှင့် မြတ်သစ်ဦးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသည့် မြေနှင့်အဆောက် အဦငှားရမ်းခြင်းစာချုပ် ကို တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေ ရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုနှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာ ချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ကုမ္ပဏီသည် RVi Institute အမည်ဖြင့် ၂၀၁၃ ခုနှစ်မှ စတင်ဆောင်ရွက်ခဲ့ပါကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၀၃/ ၂၀၁၉(၃၀၄)

ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇွန် လ ၁၁ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myat Thit Oo Co.,Ltd.မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းကိစ္စ

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myat Thit Oo Co.,Ltd. မှ Building (B)၊ အမှတ် (၇၂)၊ ချင်းတွင်းလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် အဆင့်မြင့်ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Myat Thit Oo Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ Layout Plan၊ ဆရာ/ဆရာမများ၏ ပညာအရည်အချင်းအထောက်အထားများ၊ သင်ရိုးညွှန်းတမ်း၊ အဆောက်အဦပိုင်ရှင် ဒေါ်ခင်စန္ဒာနိုင်၊ ဒေါ်အေးစန္ဒာမြိုင်တို့နှင့် မြတ်သစ်ဦးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသည့် မြေနှင့်အဆောက်အဦငှားရမ်းခြင်းစာချုပ် မြေပိုင်ဆိုင်မှုအထောက်အထားများကို ပူးတွဲတင်ပြထားပါသည်။

၃။ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၅၀၀.၀၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၃၈၈.၀၀ |
| အဆောက်အဦငှားရမ်းခ | ၇၂.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်း | ၄၀.၀၀ |
| **စုစုပေါင်း** | **၅၀၀.၀၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၅ ဦး ပြည်ပဝန်ထမ်း ၂ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း၏အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၇၅၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၆၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၇ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ၁ ဦး ခန့်ထားမည်ဖြစ်ပါသည်။

ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၆၅,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ၂,၄၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်း၏ လစာမှာ အမေရိကန်ဒေါ်လာ ၃,၀၀၀ ဖြစ်ပါသည်။

၅။ အတည်ပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကာလ (လ) | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | College Preparatory Program | ၃ | ၈ | ၃,၀၀၀,၀၀၀ |
| (ခ) | BCA Preparatory Program | ၆ | ၅ | ၁,၂၀၀,၀၀၀ |
| (ဂ) | Foundation Diploma in Management Studies | ၆ | ၇ | ၄,၀၀၀,၀၀၀ |
| (ဃ) | Engineering Pre Diploma Foundation Programme BCA Academy | ၆ | ၇ | ၄,၀၀၀,၀၀၀ |
| (င) | Diploma in Marketing Management (RVI) | ၆ | ၅ | ၁,၂၀၀,၀၀၀ |
| (စ) | Diploma in HR Management(RVI) | ၆ | ၁၀ | ၁,၂၀၀,၀၀၀ |

၆။ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက်ပေးသွားမည် ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။ အတည်ပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ၂၀၁၉ ခုနှစ် ဧပြီလ ၂၅ ရက်နေ့တွင် သဘောထားမှတ်ချက် တောင်းခံထားပါသည်။ **(နောက်ဆက်တွဲ)**

၇။ ငွေကြေးအထောက်အထားအဖြစ် KBZ Bank တွင် Myat Thit Oo Co.,Ltd. အမည်ဖြင့် ၁-၁၂-၂၀၁၈ ခုနှစ်တွင် ကျပ် ၆၁,၅၄၁,၃၀၈.၅၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) RV Centre International Pte Ltd. သည် Singapore Institute of Management Pte. Ltd. နှင့် Memorandum of Agreement ချုပ်ဆိုထားပြီး Myat Thit Oo Co., Ltd. သည် RV Center International Pte. Ltd. နှင့် Collaboration Agreement ချုပ်ဆိုထားကြောင်း တွေ့ရှိရပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဂ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဃ) ကုမ္ပဏီသည် RVi Institute အမည်ဖြင့် ၂၀၁၃ ခုနှစ်မှ စတင်ဆောင်ရွက်ခဲ့ပါကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် **Myat Thit Oo Co.,Ltd.** မှ အဆင့်မြင့်ပညာရေး ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပညာရေးဝန်ကြီးဌာန

## ဝန်ကြီးရုံး



စာအမှတ်၊ မူဝါဒ(သဘောထားမှတ်ချက်)၁၀၈၁/၂၀၁၉(၅၂၅၁)

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ မေလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၄ -၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၂၉ / ၂၀၁၉ (၂၄၈)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myat Thit Oo Co., Ltd. မှ (မြတ်သစ်ဦး ကုမ္ပဏီ လီမိတက်) မှ အမှတ်(၇၂/ဘီ)၊ ချင်းတွင်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၄၅၇ ကေတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထား မှတ်ချက် ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါ စာဖြင့်လည်းကောင်း၊ အမျိုးသားပညာရေးမူဝါဒကော်မရှင်၏ သဘောထားမှတ်ချက်ကို ရည်ညွှန်း(၃)ပါစာဖြင့် လည်းကောင်း ပေးပို့ခဲ့ပြီးဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့်အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေးအတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိကကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံးနေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများသည် ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိ ခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မပြစ်မနေ စိစစ်ရန်နှင့် Myat Thit Oo Co., Ltd. ၏ ပညာရေးဝန်ဆောင်မှုလုပ်ငန်းသည် နိုင်ငံတကာအသိအမှတ်ပြု ခိုင်မာမှု ရှိ-မရှိ စိစစ်ရန်လည်း လိုအပ်ပါသည်။

၄။ ပညာရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်လိုပါက အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်-

ဒေါက်တာကျော်နိုင်

ဒုတိယအမြဲတမ်းအတွင်းဝန်

ပညာရေးဝန်ကြီးဌာန

ဖုန်း- ၀၉၇ ၃၄၀၇၁၁၆

အီးမေးလ် - drkyawnaing2009@gmail.com

၅။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myat Thit Oo Co., Ltd. မှ (မြတ်သစ်ဦး ကုမ္ပဏီလီမိတက်) မှ အမှတ်(၇၂/ဘီ)၊ ချင်းတွင်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၄၅၇ ဧကတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ပညာရေး ဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်း၊ ပညာရေး ဝန်ဆောင်မှု ဆိုင်ရာလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်း များနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှု ကို ထောက်ခံပါကြောင်းနှင့် ပညာရေးလုပ်ငန်း ခွင့်ပြုချက်ရရှိရန် အချိန်ယူစိစစ်ဆောင်ရွက် ရသည့်အတွက် ၂၀၁၉ ခုနှစ်၊ မေလ(၁၃)ရက် ပြန်ကြားရန် ခက်ခဲပါကြောင်း (အမျိုးသားပညာရေး ဥပဒေ ပုဒ်မ - ၂ (ဓ) အရ အမျိုးသားပညာရေးမူဝါဒကော်မရှင်၊ အမျိုးသားအဆင့်အတန်းနှင့် အရည် အသွေးအာမခံမှုအကဲဖြတ်ရေးကော်မတီနှင့် ပါမောက္ခချုပ်များကော်မတီတို့၏ သဘောထား ရယူရန် လိုကြောင်း) ပြန်ကြားအပ်ပါသည်။

Kyaw Naing
2-5-19

ဒုတိယဝန်ကြီး (ကိုယ်စား)

( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ

မျှောစာတွဲ

memo (National School)